




ပုံစံ (မနသ-၂)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

**ခွင့်ပြုမိန့်**

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၁၆၆/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်ဝင်း

(ခ) **အဘ အမည်** ဦးအောင်ညို

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/တမန(နိုင်) ၀၀၉၆၁၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၂၃)၊ ခေမာသီ(၁)လမ်း၊ မိကျောင်းကန်အပိုင်း (၃)ရပ်ကွက်၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** သစ်အချောထည်၊ သစ်ခွဲသား အမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး နှင့် လျှာထိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း) မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုဇုန်အပိုင်း(၁) ၁၁၃၊ မြေကွက် အမှတ် (၁၈၅)ရှိ မြေဧရိယာ(၂.၁၀၁) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၃,၃၁၅.၄၂ သန်း(အမေရိကန်ဒေါ်လာ ၈.၅၇ သန်း အပါအဝင် စုစုပေါင်း ကျပ် တစ်သောင်း သုံးထောင် သုံးရာတစ်ဆယ့် ငါးသန်းနှင့် လေးသိန်း နှစ်သောင်းခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

၁၆/၃

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၅၁ /၂၀၁၆ (မနသ)
## ၂၀၁၆ ခုနှစ် မတ် လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်- စက်မှုဇုန် အပိုင်း(၁)၁၁၃၊ မြေကွက်အမှတ်(၁၈၅)ရှိ မြေ(၂.၁၀၁)ဧက (၈၁၅၂၆.၇၄ စတုရန်းမီတာ)အား ငှားရမ်း၍ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာ အမျိုးမျိုး၊ သစ်သားတံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဝင်း (အဘ-ဦးအောင်ညို)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြချက်အား ၂၀၁၆ ခုနှစ် မတ်လ ၂၅ရက်နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁ /၂၀၁၆) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီ လီမိတက်) အား သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၆၆/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၃။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က) အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်

ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းမှ ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန်သက်သာခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံး ပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့် ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင် တည်ဆောက်မှု ကာလအတွင်း အမှန် တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ် အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက် ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည် ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံ သည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်း များ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင်

အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဓ) ဥပဒေပုဒ်မ ၂၀(ဠ) အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် လိုက်နာ ဆောင်ရွက်ရ မည်။

၅။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)သည် ဤ ခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာနိုင်ငံ၌ ပေါက်ရောက်သော သစ်အမျိုးအစားများအား ပြည်ပမှ တင်သွင်းခြင်း မပြုရ။

၆။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု နှင့် ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် ဤအဆိုပြု လုပ်ငန်းများ၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၈။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှားချထားသူ ဦးကျော်ဝင်း နှင့် အငှားချထားခြင်းခံရသူ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်**

**ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၁၀။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် သစ်ကုန်ကြမ်း ရရှိရေးအတွက် ပုဂ္ဂလိကသစ်တောစိုက်ခင်း ထူထောင်စိုက်ပျိုးနိုင်ရန် သစ်တောဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP)ကို ရေးဆွဲတင်ပြရန်နှင့် ဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင် နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၃။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၀)၊ ပုဒ်မ ၁၉ (ဂ)ပါ သတ်မှတ်ချက်နှင့်အညီ ဤ ကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီး ဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်း ဇယား စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက် ရမည်။

၁၄။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရေးအတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၅။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၇။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဖယောင်းများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၉။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၂၀။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၂၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၆/၃

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၂ / မ- ၂၃၁ / ၂၀၁၆ ( ၂၇၃ - ၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ သစ်လုပ်ငန်းရှင်များအသင်း

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)

ကုမ္ပဏီအမည် - K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)

လုပ်ငန်း - သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သား တံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့ စွဲ | ပြန်ကြားချက် ရရှိသည့်နေ့ စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၀-၁-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၂-၂-၂၀၁၆ | ၁၆-၂-၂၀၁၆ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂-၂-၂၀၁၆ | ၁၉-၂-၂၀၁၆ | |
| | (ဂ) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ | ၂၉-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၄/၂၀၁၆) သို့ တင်ပြခြင်း | ၂၅-၁-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ ခြင်း | ၂၇-၁-၂၀၁၆ | | |
| ၅ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိ | ၁၆-၃-၂၀၁၆ | | |
| ၆ | MIC အစည်းအဝေးသို့ တင်ပြခြင်း | ၂၅-၃-၂၀၁၆ | | |
| | စုစုပေါင်း ကြာမြင့်ရက် | (၆၅) ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လွှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - အမှတ်(၁၈၅)၊ ပန်းတဉ်းဝန် ဦးရွှေဘင်လမ်း၊ စက်မှုဇုန်အပိုင်း(၁)၁၁၃၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၂.၁၀၀) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၃၃၁၅.၄၂ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် |
| အရင်းကြေကာလ | - ၅ နှစ် |
| IRR | - ၂၆% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၆၀.၆၅ | .. |
| ၄ | ဝင်ငွေခွန် | ၃၆၀၉.၀၁ | ၈၀၉၃.၅၅ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၁၉၀.၉၈ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၄၈.၆၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၄၀၃.၆၃ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၁၉၁ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၃၈၇၁.၃၄ | ၁၃၈၃၇.၉၃ |
| ၁၁ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် K M I Company Limited မှ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - K M I Company Limited |
| | ကမကထပြုသူ | - ဦးကျော်ဝင်း (အဘ-ဦးအောင်ညို)<br>(မန်နေဂျင်းဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာ အမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုးထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်(၁၈၅)၊ ပန်းတည်းဝန် ဦးရွှေဘင်လမ်း၊ စက်မှုဇုန် အပိုင်း(၁)၀၁၃၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| | မြေပိုင်ရှင် | - ဦးကျော်ဝင်း (လျှောက်ထားဆဲ) |
| | မြေအကျယ်အဝန်း | - မြေ (၂.၁၀၁) ဧက<br>(၈၁၅၂၆.၇၄ စတုရန်းမီတာ) |
| ၃။ | မြေ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ ကျပ် ၆၀,၀၀၀,၀၀၀<br>(တစ်လငှားရမ်းခနှုန်း ကျပ် ၅,၀၀၀,၀၀၀ ဖြစ်ပါသည်။) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၃၃၁၅.၄၂ သန်း (အမေရိကန် ဒေါ်လာ ၈.၅၇ သန်း အပါအဝင်) |

| | US$ (million) | ကျပ် (သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | - | ၅၃၄.၉၄ | ၅၃၄.၉၄ |
| စက်ပစ္စည်းများ | ၄.၀၇ | - | ၅၂၁၃.၁၈ |
| မြေငှားခ | - | ၉၀၀.၀၀ | ၉၀၀.၀၀ |
| အဆောက်အဦဆောက်လုပ်မှုစရိတ် | - | ၉၀၇.၃၀ | ၉၀၇.၃၀ |
| ကုန်ကြမ်း | ၄.၅၀ | - | ၅၇၆၀.၀၀ |
| **စုစုပေါင်း** | ၈.၅၇ | ၂၃၄၂.၂၄ | ၁၃၃၁၅.၄၂ |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - စက်ပစ္စည်းများကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | - ၂၀၂ ဦး |
| | ပြည်တွင်း | - ၁၉၁ ဦး (အနိမ့်ဆုံးလစာမှာ ၁၂၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၁,၂၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁၁ ဦး (အနိမ့်ဆုံးလစာမှာ US$ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - ကျပ် ၁၆၉၄၃.၃၆ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၄၁၁၄.၀၇ သန်း |
| | အသားတင်အမြတ် | - ကျပ် ၂၈၂၉.၂၉ သန်း |

| | | |
|---|---|---|
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၉၄၃.၁၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၈၄၇.၁၇ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၆% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၄၄,၀၁၀ Unit |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမမြောက်နှစ်) | - |

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|
| Factory (1) & (2) | | |
| (က) Sawn Timber | ၉၅၀ | ၃၂၀၀ |
| (ခ) Tongue & Groove Flooring | ၉၅၀ | ၃၀၀၀ |
| (ဂ) Outdoor Decking | ၁၀၃၀ | ၂၄၀၀ |
| (ဃ) Door | ၁၇၀ | ၈၀၀၀ |
| Factory (3) | | |
| Thickness | | |
| (က) 0.20 mm | ၂၅၀ | ၃၅၀၀ |
| (ခ) 0.33 mm | ၂၅၀ | ၃၀၀၀ |
| (ဂ) 1.00 | ၃၀၀ | ၂၈၀၀ |
| (ဃ) 2.00 mm | ၃၀၀ | ၃၅၀၀ |

| | | |
|---|---|---|
| ၁၃။ | **စိစစ်တင်ပြချက်** | - မြေအထောက်အထားအဖြစ် မြေပိုင်ရှင် ဦးအောင်နိုင်ထံမှ ဦးကျော်ဝင်း ဝယ်ယူထားသော မြေအရောင်းအဝယ်စာချုပ်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ အရောင်းအဝယ်စာချုပ် ချုပ်ဆိုရန် ခွင့်ပြုသည့် အထောက်အထားနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာနမှ |

| | | |
|---|---|---|
| | | ဦးအောင်နိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော စက်မှုမြေဂရန် တင်ပြထားပါသည်။<br>- ဦးကျော်ဝင်း အမည်ဖြင့် မြေဂရန် အမည်ပေါက် ရရှိရန်အတွက် ကာလတန်ဖိုး စိစစ်သတ်မှတ်ရေးအဖွဲ့၊ ရန်ကုန်တိုင်း ဒေသကြီးသို့ တင်ပြထားပြီး အခွန်ထမ်းဆောင်နိုင်ရန် ဆောင်ရွက်ဆဲဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ပြည်တွင်း အခွန်များဦးစီးဌာန၊ မြို့နယ်အခွန်ဦးစီး ဌာနမှူးရုံး၊ ဒဂုံမြို့သစ်(မြောက်ပိုင်း)မြို့နယ်မှ K M I Company Limited သည် မြေ နှင့် အကျိုးခံစားခွင့် များအပေါ် ကာလတန်ဖိုးစိစစ် သတ်မှတ်ရေးအဖွဲ့သို့ တန်ဖိုးဖြတ် ခံယူရန် တင်ပြထားဆဲဖြစ်ပြီး အခွန်ဆိုင်ရာ ကိစ္စရပ်များ ဆောင်ရွက်နေဆဲဖြစ်ကြောင်း (၉-၂-၂၀၁၆) ရက်စွဲပါစာဖြင့် ထောက်ခံစာတင်ပြထားပါသည်။<br>- ကုမ္ပဏီမှ သစ်ကုန်ကြမ်း ရယူသုံးစွဲမည့် အစီအစဉ်၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာပုံများ၊ တင်သွင်းမည့် စက်ပစ္စည်းများ၏ နမူနာပုံများကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက-၂/မ-၂၃၁/၂၀၁၆( ၂၄၀ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် K M I Company Limited မှ သစ်အချောထည်၊ သစ်ခွဲသား အမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ K M I Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန် အပိုင်း(၁)၁၁၃၊ ပန်းတည်းဝန် ဦးရွှေဘင်လမ်း၊ အမှတ်(၁၈၅)ရှိ မြေ(၂.၁၀၁)ဧကအား ငှားရမ်း၍ သစ်အချောထည်၊ သစ်ခွဲသား အမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်ဝင်း(အဘ-ဦးအောင်ညို)မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ အဆိုပါ အဆိုပြုလွှာ ကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄/၂၀၁၆ အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် မြေငှားရမ်းသက်တမ်း ကာလမှာ ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဖြင့် စုစုပေါင်း (၅၀)နှစ်ထိ ဖြစ်ပြီး၊ တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၆၀,၀၀၀,၀၀၀ ဖြင့် ပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေငှားရမ်းခကို ၅ နှစ် တစ်ကြိမ် သုံးသပ်ရန် နှင့် နှစ်စဉ် ငှားရမ်းခနှုန်း၏ ၁၅% ထက် မပိုစေရန် ညှိနှိုင်းထားကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ ၈.၅၇ သန်း အပါအဝင် စုစုပေါင်း ကျပ် ၁၃,၃၁၅.၄၂ သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$ ၄.၀၇ သန်း ကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် ၅၃၄.၉၄ သန်း | |
| (ခ) | စက်ပစ္စည်းတန်ဖိုး | ကျပ် ၅၂၁၃.၁၈ သန်း | (အမေရိကန်ဒေါ်လာ ၄.၀၇ သန်း) |
| (ဂ) | မြေငှားခ | ကျပ် ၉၀၀.၀၀ သန်း | |
| (ဃ) | အဆောက်အဦ ဆောက်လုပ်မှုစရိတ် | ကျပ် ၉၀၇.၃၀ သန်း | |
| (င) | ကုန်ကြမ်း | ကျပ် ၅၇၆၀.၀၀ သန်း | (အမေရိကန်ဒေါ်လာ ၄.၅၀ သန်း) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၁၃၃၁၅.၄၂ သန်း** | **(အမေရိကန်ဒေါ်လာ ၈.၅၇ သန်း)** |

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၉၁)ဦး နှင့် ပြည်ပ ဝန်ထမ်း (၁၁)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၁၂၀,၀၀၀) ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း (၁)ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် သစ်အချောထည်၊ သစ်ခွဲသား၊ သစ်ပါးလွှာ၊ သစ်သားတံခါးနှင့် လျှာထိုးများကို ပြည်ပ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမ မြောက်နှစ်)တွင် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|
| Factory (1) & (2) | | |
| (က) Sawn Timber | ၉၅၀ | ၃၂၀၀ |
| (ခ) Tongue & Groove Flooring | ၉၅၀ | ၃၀၀၀ |
| (ဂ) Outdoor Decking | ၁၀၃၀ | ၂၄၀၀ |
| (ဃ) Door | ၁၇၀ | ၈၀၀၀ |

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|
| Factory (3) | | |
| Thickness | | |
| (က) 0.20 mm | ၂၅၀ | ၃၅၀၀ |
| (ခ) 0.33 mm | ၂၅၀ | ၃၀၀၀ |
| (ဂ) 1.00 | ၃၀၀ | ၂၈၀၀ |
| (ဃ) 2.00 mm | ၃၀၀ | ၃၅၀၀ |

၆။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၁၆၉၄၃.၃၆ သန်း

(ခ) အသုံးစရိတ် - ကျပ် ၁၄၁၁၄.၀၇ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၂၈၂၉.၂၉ သန်း

၇။ နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

(က) ကုန်သွယ်လုပ်ငန်းခွန်(၅%) ကျပ် ၈၄၇.၁၇ သန်း

(ခ) ဝင်ငွေခွန် (၂၅%) ကျပ် ၉၄၃.၁၀ သန်း

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၆ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု မြေနေရာသည် နောင်ပြု လုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ် ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက်

အထောက်အကူဖြစ်စေပါကြောင်း၊ မြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှု အား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။

(နောက်ဆက်တွဲ - က)

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့မှ** အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) K M I Company Limited မှ သစ်အချောထည်စက်တည်ထောင်ခြင်း သည် သစ်တောဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ စိစစ်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း၊ သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ် လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူနိုင်ပါကြောင်း၊ ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေး အတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကသစ်တောစိုက်ခင်းများ စိုက်ပျိုး တည်ထောင်ခွင့် လျှောက်ထား ဆောင်ရွက်နိုင်ပါကြောင်းနှင့် ကုမ္ပဏီ အနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင် သယံဇာတအရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှ တားမြစ် ထားခြင်းမရှိသည့် သစ်အမျိုးအစားများ တင်သွင်း၍လည်း ကုန်ကြမ်း လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility - CSR)အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၄) လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါး စေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(နောက်ဆက်တွဲ- ခ)

**[ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာန ဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထား မှတ်ချက်နှင့်အညီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကို ရေးဆွဲတင်ပြမည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

(ဃ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါ ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာ ပါသည်။ (နောက်ဆက်တွဲ-ဂ)

**[စက်မှုဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။]**

၁၀။ ငွေကြေးအထောက်အထားအဖြစ် K M I Co., Ltd. အမည်ဖြင့် Myanma Foreign Trade Bank ရှိ ၈-၁-၂၀၁၆ ရက်စွဲဖြင့် US$ ၇၆,၄၇၀.၀၀၊ ဦးကျော်ဝင်း အမည်ဖြင့် United Amara Bank Ltd ရှိ ၁၈-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၇၂၀,၂၂၈,၂၄၃.၉၁ ၊ ဦးရဲထက်ဝင်း အမည်ဖြင့် United Amara Bank Ltd ရှိ ၃၁-၁၂-၂၀၁၅ ရက်စွဲဖြင့် ကျပ် ၇၀,၁၀၆,၅၂၃.၆၆ နှင့် ဦးမင်းသော်ကောင်း အမည်ဖြင့် AYA Bank ရှိ ၈-၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၃၁၁,၁၁၁,၈၀၇.၉၃ တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ အလုပ်သမားများ၏ လစာဝင်ငွေ တစ်နှစ်လျှင် ကျပ် ၂,၀၀၀,၀၀၀/- ကျော်ပါက ဝင်ငွေခွန်ကို တည်ဆဲဥပဒေအရ ဖြတ်တောက်၍ အခွန်ဌာနသို့ ပေးသွင်းမည်ဖြစ်ကြောင်း၊ လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိပါက ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၂။ လျှပ်စစ်ဓာတ်အားကို ၁၄၄,၀၀၀ ယူနစ် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) မြေအထောက်အထားအဖြစ် မြေပိုင်ရှင် ဦးအောင်နိုင်ထံမှ ဦးကျော်ဝင်း ဝယ်ယူထားသော မြေအရောင်းအဝယ် စာချုပ်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီမှ အရောင်းအဝယ်စာချုပ် ချုပ်ဆိုရန် ခွင့်ပြုသည့် အထောက်အထားနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာနမှ ဦးအောင်နိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော စက်မှုမြေဂရန် တင်ပြထားပါသည်။

(ခ) ဦးကျော်ဝင်း အမည်ဖြင့် မြေဂရန် အမည်ပေါက် ရရှိရန်အတွက် ကာလတန်ဖိုး စိစစ်သတ်မှတ်ရေးအဖွဲ့၊ ရန်ကုန်တိုင်းဒေသကြီးသို့ တင်ပြထားပြီး အခွန်ထမ်း ဆောင်နိုင်ရန် ဆောင်ရွက်ဆဲဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) ပြည်တွင်း အခွန်များဦးစီးဌာန၊ မြို့နယ်အခွန်ဦးစီး ဌာနမှူးရုံး၊ ဒဂုံမြို့သစ် (မြောက်ပိုင်း)မြို့နယ်မှ K M I Company Limited သည် မြေ နှင့် အကျိုး ခံစားခွင့်များအပေါ် ကာလတန်ဖိုးစိစစ် သတ်မှတ်ရေးအဖွဲ့သို့ တန်ဖိုးဖြတ် ခံယူရန် တင်ပြထားဆဲဖြစ်ပြီး အခွန်ဆိုင်ရာ ကိစ္စရပ်များ ဆောင်ရွက်နေဆဲ ဖြစ်ကြောင်း (၉-၂-၂၀၁၆) ရက်စွဲပါစာဖြင့် ထောက်ခံစာတင်ပြထားပါသည်။

(ဃ) ကုမ္ပဏီမှ သစ်ကုန်ကြမ်း ရယူသုံးစွဲမည့် အစီအစဉ်၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာ ပုံများ၊ တင်သွင်းမည့် စက်ပစ္စည်းများ၏ နမူနာပုံများကို တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် K M I Company Limited မှ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါး အမျိုးမျိုး၊ လျှာထိုး ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ(က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၂/ မ-၂၃၀/၂၀၁၆(၀၉၅)

၁။ KMI Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)မှ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၁၁၃၊ ပန်းတည်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်(၁၈၅)ရှိ မြေ(၂. ၁၀၁)ဧက(၈၅၀၂. ၄၅၂ စတုရန်းမီတာ)အား ငှားရမ်း၍ သစ်အချောထည်၊ သစ်ခွဲသား အမျိုးမျိုး၊ သစ်အပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၁၉၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၁၁၃၊ ပန်းတည်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်(၁၈၅)ရှိ မြေ(၂. ၁၀၁)ဧက (၈၅၀၂. ၄၅၂ စတုရန်းမီတာ)အား တစ်နှစ်လျှင် သိန်း(၆၀၀) (1sqft =655 kyat, 1sqm =7056 kyat) နှုန်းဖြင့် ကနဦး(၃၀)နှစ်၊ မှစ်တိုး(၁၀)နှစ် (၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/6.(5)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၁. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၄)အရ KMI Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
KMI Company Limited (ကေ အမ် အိုင် ကုမ္ပဏီလီမိတက်)
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ(ခ)




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/MIC(OSS)/ECD/၀၁(၄၉/၁၈)
ရက် စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။ KMI Company Limited မှ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၃၀/ ၂၀၁၆(၀၈၅)

၁။ KMI Company Limited မှ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၁၁၃၊ ပန်းတဉ်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်(၁၈၅)ရှိ မြေ(၂.၁၀၁)ဧကအားငှားရမ်း၍သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စီစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုပါ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ စီစစ်ရာတွင် ဓာတုဗေဒပစ္စည်းများအား သုံးစွဲရန်လိုအပ်ခြင်းကြောင့် ကုန်ကြမ်းပစ္စည်းသိုလှောင်ခြင်း၊ သုံးစွဲခြင်း၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်များ၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ၊ မြေ၊ လေညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့်သစ်လုံးခွဲရာတွင်လွှများ၊ အခြားပစ္စည်းကရိယာများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများအန္တရာယ်ဖြစ်နိုင်ခြင်း၊ စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးထိခိုက်စေနိုင်ခြင်း

စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်းစီစစ်တွေ့ရှိရပါသည်။

၃။ KMI Company Limited မှ သစ်အချောထည်စက်တည်ထောင်ခြင်းသည် သစ်တော ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ စီစစ်ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း၊ သစ်ကုန် ကြမ်းရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ပြည်ပအိတ်ဖွင့် တင်ဒါများတွင်ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ပါကြောင်း၊ ရေရှည်ကုန်ကြမ်းရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိကသစ်တောစိုက်ခင်းများ စိုက်ပျိုးတည်ထောင်ခွင့်လျှောက်ထား ဆောင်ရွက်နိုင်ပါကြောင်းနှင့်ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှတင်သွင်းခြင်း ဖြင့်လည်း နိုင်ငံပိုင်သယံဇာတအရင်းအမြစ်များကိုချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှတားမြစ် ထားခြင်းမရှိသည့် သစ်အမျိုးအစားများတင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အား ဖြည့် ဆည်းနိုင်ပါကြောင်းဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ KMI Company Limited မှ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ် ပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို လုပ် ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန် ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြု လွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံမှု ( Corporate Social Responsibility – CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြု ခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင် ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး(သို့မ ဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ် ခြင်း ( Initial Environmental Examination –IEE )ကိုဆောင်ရွက်ပြီး အစီ ရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေ ရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ် နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်း ဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင် ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ များ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး (ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၉၄၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ မ-၂၃၁/ ၂၀၁၆ (၀၉၄)

၁။ KMI Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)မြို့နယ်၊ စက်မှုဇုန်အပိုင်း(၁)၁၁၃၊ ပန်းတဥ်းဝန်ဦးရွှေဘင်လမ်း၊ အမှတ်(၁၈၅)တွင် သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်အပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပေါင်းသားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ KMI Co.,Ltd. မှ သစ်အချောထည်၊ သစ်ခွဲသားအမျိုးမျိုး၊ သစ်အပါးလွှာအမျိုးမျိုး၊ သစ်သားတံခါးအမျိုးမျိုး၊ လျှာထိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင်

အထက်ပါလိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ် နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးဦးစီးဌာန